R - ၄၉၉
၂၄/၄

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ

သစ်တောရေးရာ ဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၂/၂၃၀ (ခ) (၄) / ( ၈၇၀ / ၂၀၀၃ )
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ ဧပြီလ ၂၂ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ ။ မြန်မာထောင်စုပြည့်အဖွဲ့ ထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ တစ်နေ့တန် ( ၁၀၀ ) ကျ ရေခဲစက်ရုံ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ ။

ရည် ညွှန်း ချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ( ၂-၄-၂၀၀၃ ) ရက်စွဲပါ၊ စာအမှတ်- ရက- ၁/မ - ၈၂၅ / ၂၀၀၃ ( ၀၃၇ ) ။

၁။ အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ (၁၃-၃-၂၀၀၃) နေ့တွင် ကျင်းပသော ကုန်သွယ်မှုမူဝါဒ ကောင်စီ၏ ( ၉/၂၀၀၃ ) ကြိမ်မြောက် အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် --

"အဆိုပြု တင်ပြခြင်းကိစ္စနှင့်စပ်လျဉ်း၍ မူအားဖြင့် သဘောတူ၍ အစိုးရအဖွဲ့သို့ တင်ပြရန်"

၂။ သို့ဖြစ်ပါ၍ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက်တင်ပြနိုင်ရန် အတွက် မြန်မာထောင်စုပြည့်အဖွဲ့ ထုတ်လုပ်မှုကုမ္ပဏီလီမိတက် ၏ အဆိုပြုလွှာနှင့် အထောက်အထား စာချုပ် ( မူကြမ်း ) များကို ဤစာနှင့်အတူ ပူးတွဲပေးပို့ တင်ပြအပ်ပါသည်။

- Proposal
- Cabinet

ဝန်ကြီး ( ကိုယ်စား )
( မျိုးဝင်း ၊ ရုံးအဖွဲ့မှူး )

25/4/03

မိတ္တူ -
- ဦးဆောင်ညွှန်ကြားရေးမှူး ၊ မြန်မာ့သစ်လုပ်ငန်း
- မြန်မာထောင်စုပြည့်အဖွဲ့ထုတ်လုပ်မှုကုမ္ပဏီလီမိတက်
- ရုံးလက်ခံ

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-......၆၂၇.../၂၀၀၃ ။ ၂၀၀၃ ခုနှစ်၊ မေ လ ၁၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ......ဦး မင်း ဇေယျာကျိုင်......

(ခ) အဘအမည် ......ဦး ကျော်ချစ်ကျိုင်......

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ......၁၂/မရက(နိုင်)၀၀၀၂၁၆......

(ဃ) နေရပ်လိပ်စာ ......အမှတ်- ၄(D)၊ မြေနီကုန်းပလာဇာ၊ စမ်းချောင်းမြို့နယ် ရန်ကုန်မြို့။......

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ......မြန်မာ ထောင်စုနှစ်ကြီးအုပ်စု ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် ( Myanmar Millennium Group Production Co.,Ltd)......

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ......တစ်နေ့တန် (၁၀၀) ကျ ရေခဲစက်ရုံ လုပ်ငန်း......

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ......ရန်ကုန်တိုင်း၊ ကြည့်မြင်တိုင်မြို့နယ်၊ မြန်မာ့သစ်လုပ်ငန်း ဗိုင်အမှတ် (၁) သစ်စက်ဝင်း ၊......

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ......(၁၂၉.၅၄) သန်း (ကျပ်တစ်ရာ့နှစ်ဆယ့်ကိုးသန်း ငါးသိန်း လေး သောင်း တိတိ)......

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျှို့ဝှက်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## အမိန့် ကြော်ငြာစာအမှတ်၊ ၇ ၆/၂၀၀၂ (မနသ)

ရန်ကုန်မြို့၊ ၁၃၆၅ ခုနှစ်၊ ကဆုန်လပြည့်ကျော် ၂ ရက်

(၂၀၀၂ ခုနှစ်၊ မေလ ၁၇ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော မြန်မာထောင်စုပြည့်အဖွဲ့ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Myanmar Millennium Group Production Co., Ltd) သည် သစ်တောရေးရာ ဝန်ကြီးဌာန၊ မြန်မာ့သစ်လုပ်ငန်းပိုင်၊ အမှတ်(၁) သစ်စက်ဝင်း၊ ကြည့်မြင်တိုင်မြို့နယ်၊ ရန်ကုန်တိုင်း ရှိ မြေ (၀.၄၅) ဧက၊ (၁၈၂၁.၀၉ စတုရန်းမီတာ) ကို ငှါးရမ်း၍ တစ်နေ့ တန်(၁၀၀) ကျ ရေခဲစက်ရုံလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၁၄-၂-၂၀၀၃) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏(၅/၂၀၀၃)အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၁၃-၃-၂၀၀၃)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၉/၂၀၀၃) အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေးမှ သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက် နှင့်အညီ (၈-၅-၂၀၀၃) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၁၅/၂၀၀၃) အစည်းအဝေးသို့ တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မြန်မာထောင်စုပြည့်အဖွဲ့ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်(Myanmar Millennium Group Production Co., Ltd) အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ တစ်နေ့ တန်(၁၀၀)ကျ ရေခဲစက်ရုံလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၆၂၈/၂၀၀၃ ကို ထုတ်ပေးလိုက်သည်။

၂။ မြန်မာထောင်စုပြည့်အဖွဲ့ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Myanmar Millennium Group Production Co., Ltd) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ဥပဒေ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှုလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန် လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်းဝင်ငွေ တိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ (တစ်)နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်

ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်း တန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

၃။ မြန်မာထောင်စုပြည့်အဖွဲ့ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Myanmar Millennium Group Production Co., Ltd) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များအဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၄။ မြန်မာထောင်စုပြည့်အဖွဲ့ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Myanmar Millennium Group Production Co., Ltd) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၆။ မြန်မာထောင်စုပြည့်အဖွဲ့ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Myanmar Millennium Group Production Co., Ltd) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် သစ်တောရေးရာ ဝန်ကြီးဌာန၊ မြန်မာ့ သစ်လုပ်ငန်းနှင့် ချုပ်ဆိုသည့် မြေငှါးစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၇။ သစ်တောရေးရာ ဝန်ကြီးဌာန၊ မြန်မာ့ သစ်လုပ်ငန်းနှင့် မြန်မာထောင်စုပြည့်အဖွဲ့ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Myanmar Millennium Group Production Co., Ltd) တို့အကြား ချုပ်ဆိုမည့် မြေငှါးစာချုပ်ကို သဘောတူ အတည်ပြု လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၈။ မြေငှါးကာလမှာ ကနဦး (၁၅)နှစ် ဖြစ်၍ နောက်ထပ်(၅)နှစ် (၁)ကြိမ် သက်တမ်း တိုးမြှင့်ခွင့်အတွက် ကော်မရှင်၏ အတည်ပြုချက် ရယူရမည်။

၉။ မြေငှါးရမ်းခအဖြစ် မြေ (၀.၄၅)ဧက ကို (တစ်)နှစ်အတွက် တစ်စတုရန်းမီတာလျှင် ကျပ်(၃၀၀)နှုန်းဖြင့် မြေငှါးရမ်းခ ကျပ် (၀.၅၄၆) သန်းကို မြန်မာ့သစ်လုပ်ငန်းသို့ နှစ်စဉ်ပေးသွင်းရမည်။

၁၀။ မြေငှါးရမ်းခကို (၅)နှစ်လျှင် တစ်ကြိမ် နောက်ဆုံးပေးဆောင်ခဲ့သော ငှါးရမ်းခ၏ (၁၅) ရာခိုင်နှုန်းထက် မပိုစေဘဲ ဤကော်မရှင်၏ အတည်ပြုချက်ဖြင့် ညှိနှိုင်းသတ်မှတ်ရမည်။

၁၁။ အဆိုပြုမြေမှ အငှါးချထားစဉ် ကာလအတွင်း မမျှော်လင့်ပဲ ဓါတ်သတ္တု အရင်းအမြစ်များ၊ အဖိုးတန် ကျောက်မျက်ရတနာများ၊ ရှေးဟောင်းပစ္စည်းများကို တွေ့ရှိပါက ထိုပစ္စည်းများကို မြန်မာ့သစ်လုပ်ငန်းမှ ပိုင်ဆိုင်ရမည်

ဖြစ်ပြီး သက်ဆိုင်ရာ အစိုးရအဖွဲ့အစည်းသို့ တင်ပြ၍ လွတ်လပ်စွာ တူးဖော်ရယူပိုင်ခွင့် ရှိရမည်။

၁၂။ သစ်တောရေးရာ ဝန်ကြီးဌာန၊ မြန်မာ့ သစ်လုပ်ငန်းနှင့် မြန်မာထောင်စုပြည့်အဖွဲ့ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Myanmar Millennium Group Production Co., Ltd) တို့အကြား ချုပ်ဆိုသည့် မြေငှါးစာချုပ် သက်တမ်းပြည့်သည့်အခါ ရွှေ့ပြောင်းနိုင်သော ပစ္စည်းအားလုံးကို ရွှေ့ပြောင်းယူဆောင်သွားခွင့်ရှိပြီး မရွှေ့ပြောင်း နိုင်သော အဆောက်အအုံများအား မြန်မာ့ သစ်လုပ်ငန်းသို့ အဖိုးစားနားမဲ့ အပြီးအပိုင် လွှဲပြောင်းပေးရမည်။

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။

၁၄။ မြန်မာထောင်စုပြည့်အဖွဲ့ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Myanmar Millennium Group Production Co., Ltd) သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေးအစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက် ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၅။ မြန်မာထောင်စုပြည့်အဖွဲ့ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Myanmar Millennium Group Production Co., Ltd) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှုအစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယား များဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာလများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။

၁၆။ အဆိုပြုလုပ်ငန်း စီးပွားဖြစ်စတင်ဆောင်ရွက်သည့်နေ့ကို စီးပွားဖြစ်စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်ခြင်း မပြုနိုင် ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၈။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ် ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကို ရယူရမည်။

၁၉။ မြန်မာထောင်စုပြည့်အဖွဲ့ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Myanmar Millennium Group Production Co., Ltd) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ခြင်း မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်း သည်အထိ အရေးယူခြင်းခံရမည်။

၂၀။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့်

မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င)အရ နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

( ဦးသောင်း )

ဥက္ကဋ

စာအမှတ်၊ ရက–၁/မ–၈၂၅/၂၀၀၃ (ဖ ၅၂ – ခ)

ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ မေလ ၁၇ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။

၃။ အစိုးရအဖွဲ့ရုံး။

၄။ ကာကွယ်ရေး ဝန်ကြီးဌာန၊ တပ်မတော်ထောက်လှမ်းရေး ဌာနချုပ်ရုံး၊ (ပြည်တွင်းထောက်လှမ်းရေးဌာန)။

၅။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။

၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၇။ အလုပ်သမား ဝန်ကြီးဌာန။

၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။

၁၁။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

၁၂။ သစ်တောရေးရာ ဝန်ကြီးဌာန။

၁၃။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။

၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။

၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ သစ်လုပ်ငန်း။

၂၄။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။

၂၅။ အုပ်ချုပ်မှု ဒါရိုက်တာ၊ မြန်မာထောင်စုပြည့်အဖွဲ့ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Myanmar Millennium Group Production Co., Ltd)

R-၃၅၃၇
၂၀/၂

၃၂၆
၄၁၃

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
**သစ်တောရေးရာဝန်ကြီးဌာန**
ဝန်ကြီးရုံး

စာအမှတ် ၂/၂၁၀ (ခ) (၄) / ( ၄၃၃ / ၂၀၀၃ )
ရက်စွဲ ၂၀၀၃ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၇ ရက်

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ ။ မြန်မာထောင်စုပြည့်အဖွဲ့ ထုတ်လုပ်မှုကုမ္ပဏီမှ တစ်နေ့တန် ( ၁၀၀ ) ကျ ရေခဲစက်ရုံ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ။

ရည် ညွှန်း ချက် ။ ။ ( ၁၄-၂-၂၀၀၃ ) ရက်နေ့တွင် ကျင်းပခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ( ၅/၂၀၀၃ ) အစည်းအဝေးမှ လမ်းညွှန်ချက်။

၁။ မြန်မာထောင်စုပြည့်အဖွဲ့ ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် မှ ရန်ကုန်တိုင်း၊ ကြည့်မြင်တိုင်မြို့နယ် မြန်မာ့သစ်လုပ်ငန်းပိုင် အမှတ် ( ၁ ) သစ်စက်ဝင်းအတွင်းရှိ မြေ ( ၀.၄၅ ) ဧက ပေါ်တွင် ၁၀၀% ရင်းနှီးမြှုပ်နှံ၍ တစ်နေ့ တန် (၁၀၀) ကျ ရေခဲစက်ရုံ လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် တင်ပြသည့်အဆိုပြုလွှာအပေါ်တွင် ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးသို့ဆက်လက် တင်ပြနိုင်ရန်အတွက် မြန်မာထောင်စုပြည့်အဖွဲ့ ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်၏ အဆိုပြုချက်နှင့် အထောက် အထားစာချုပ် ( မူကြမ်း ) ( ၂၅ ) စုံ ကို ဤစာနှင့်အတူ ပူးတွဲပေးပို့ တင်ပြအပ်ပါသည်။

ဝန်ကြီး ( ကိုယ်စား )
( မျိုးဝင်း၊ ရုံးအဖွဲ့မှူး )

မိတ္တူ -
- ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
- ရုံးလက်ခံ

/ /

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ဖြ၅၃/ဖြ၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

☎ တယ်လီဖုန်း - ၃၇၂၈၁၂၊ ၃၇၂၁၅၉၊ ၃၇၂၃၉၁

စာအမှတ်၊ ၇က-၁/မ-၀၂၅/၂၀၀၂(၅၈၃၅)

ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၁ ရက်

အကြောင်းအရာ။ ။ <u>မြန်မာ ထောင်စုပြည်အဖွဲ့ထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ တစ်နေ့တန်(၁၀၀)ကျ ရေခဲစက်ရုံလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။</u>

ရည်ညွှန်းချက်။ ။ သစ်တောရေးရာဝန်ကြီးဌာန၏၂၉-၁-၂၀၀၃ ရက်စွဲပါစာအမှတ်၊ ၂/၂၂၀(ခ)(၄)/(၂၃၁/၂၀၀၃)။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ သစ်တောရေးရာဝန်ကြီးဌာနမှရည်ညွှန်းပါစာဖြင့်တင်ပြခြင်းကို(၁၄-၂-၂၀၀၃)နေ့က ကျင်းပသော ကော်မရှင်၏(၅/၂၀၀၃)အစည်းအဝေးသို့တင်ပြခဲ့ပါသည်။

၂။ အစည်းအဝေးမှ "အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်မူအားဖြင့် သဘောတူပြီး ကုန်သွယ်မှုမူဝါဒ ကောင်စီသို့တင်ပြလမ်းညွှန်မှုခံယူရန်" ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ကုန်သွယ်မှုမူဝါဒ ကောင်စီသို့ဆက်လက်တင်ပြနိုင်ရန် အထောက်အမှာစာ(နောက်ဆက်တွဲ)များ အား ဤကော်မရှင်သို့ ပေးပို့ပါရန်၊ အကြောင်းကြားအပ်ပါသည်။

(signature)

ဥက္ကဋ္ဌ(ကိုယ်စား)

(ဗိုလ်မှူးကြီးလင်းဆော်၊ အထူးအရာရှိ)

<u>ဝန်ကြီးရုံး</u>

<u>သစ်တောရေးရာဝန်ကြီးဌာန။</u>

မိတ္တူ-(၁) ဦး ဆောင်ညွှန်ကြား ရေး မှူး
မြန်မာ့သစ်လုပ်ငန်း ။

(၂) မြန်မာ ထောင်စုပြည်သူ့အဖွဲ့ ထုတ်လုပ်မှုကုမ္ပဏီလီမိတက်။

(၃) ရုံး လက်ခံ။

(၄) မျှောစာတွဲ။

* အေး *

Myanmar Millennium Group Production Co.,Ltd.

No.4(D),Myaynigone Plaza,Sanchaung Township,Yangon, Myanmar
Phone : (951) 515292, 504566 Fax : (951) 503354

R-၂၉၃၄
၂၄/၁

Myanmar Millennium Group Co.,Ltd. ☆Yangon☆ No.......... Date..........

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၀၃ခုနှစ်၊ ဇန်နဝါရီလ ( ၂၄ )ရက်၊

အကြောင်းအရာ ။ ။ **"မြန်မာထောင်စုပြည့်အဖွဲ့ထုတ်လုပ်မှုကုမ္ပဏီလီမိတက်" မှ တစ်နေ့တန်(၁၀၀)ကျ ရေခဲစက်ရုံတွင် လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၃-၁-၂၀၀၃ ရက်စွဲပါ စာအမှတ်-၇က-၁/မ-၈၂၅/၂၀၀၂ (၄၂၀၂-က)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်တို့၏ "မြန်မာထောင်စုပြည့်အဖွဲ့ထုတ်လုပ်မှုကုမ္ပဏီလီမိတက်" သည် မြန်မာ့သစ်လုပ်ငန်းပိုင်၊ ရန်ကုန်တိုင်း၊ ကြည့်မြင်တိုင်မြို့နယ်၊ အမှတ်(၁)သစ်စက်ဝင်းအတွင်းရှိ၊ မြေ(၀.၄၅)ဧကကို ကနဦး (၁၅)နှစ်နှင့် (၅)နှစ်တစ်ကြိမ် သတ်မှတ်၍ငှားရမ်းပြီး၊ တစ်နေ့တန်(၁၀၀)ကျ ရေခဲစက်ရုံတည်ထောင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့်ရရှိရန် တင်ပြလျှောက်ထားခဲ့ပါသည်။ ကျွန်တော်တို့၏ ရေခဲစက်ရုံသည် ယခင်ကဆောင်ရွက်ခဲ့ခြင်းမရှိပဲ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိမှသာလျှင် စတင်ဆောင်ရွက်မည်ဖြစ်ရာ ယခုအခါ တည်ဆောက်ဆဲကာလသာဖြစ်ပါသည်။ သို့ပါ၍ ကျွန်တော်တို့၏ တစ်နေ့ တန်(၁၀၀)ကျ ရေခဲစက်ရုံသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။ မြေငှားရမ်းကာလမှာလည်း ကနဦး(၁၅)နှစ်နှင့်(၅)နှစ်တစ်ကြိမ် သက်တမ်းတိုးဆောင်ရွက်ရန် သဘောတူပါကြောင်း တင်ပြအပ်ပါသည်။

email: mmg@mptmail.net.mm, www.myanmar-business.com

၂။ ကျွန်တော်တို့၏ လုပ်ငန်းအုပ်စုများဖြစ်သော "မြန်မာထောင်စုပြည့်အဖွဲ့ကုမ္ပဏီလီမိတက်" ကဆောင်ရွက်နေသော ငါးတင်/ချ ဆိပ်ခံတံတားအတွက် သုံးစွဲရန် တပ်ဆင်ထားသော ၃၀၀ ကေဗွီအေ ထရန်စဖေါ်မာနှင့် ယခု "မြန်မာထောင်စုပြည့်အဖွဲ့ထုတ်လုပ်မှုကုမ္ပဏီလီမိတက်" က ဆောင်ရွက်မည့် ရေခဲစက်ရုံအတွက် ထရန်စဖေါ်မာကို ပူးတွဲသုံးစွဲရန် ကျွန်တော်တို့၏ ကုမ္ပဏီက တပ်ဆင်ထားခြင်းဖြစ်ပါသည်။

လေးစားစွာဖြင့်

ဦးမင်းဇေယျာလှိုင်
အုပ်ချုပ်မှုဒါရိုက်တာ
Myanmar Millennium Group
Production Co., Ltd.

(MIN ZEYAR HLAING)
MANAGING DIRECTOR
MYANMAR MILLENNIUM GROUP CO.,LTD.

R.၁၄၂၂
၆/၁

၃၃၄၃
၅/၁၂

၃၆၁၃
၁၀/၁၂

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် ( ၁ ) စက်မှုဝန်ကြီးဌာန

စာအမှတ် ၂၉/ ၁၅(၁)/ [illegible] (၆၀၉၇၁)
ရက်စွဲ၊ ၂၀၀၂ ခုနှစ် ဒီဇင်ဘာ လ ၃ ရက်။

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၂ ခုနှစ်၊ အောက်တိုဘာလ ၂၂ ရက်နေ့စွဲပါစာအမှတ်၊ ရက-၁/ မ-၀၂၅/ ၂၀၀၂(၁၁၂၃-၀)

၁။ Myanmar Millennium Group Production Co., Ltd. သည် ရန်ကုန်တိုင်း၊ ကြည့်မြင်တိုင်မြို့နယ်၊ မြန်မာ့သစ်လုပ်ငန်း ပိုင်အမှတ်(၈) သစ်စက်ဝင်း အတွင်း ရှိ မြေ (၀.၄၅) ဧကကို ငှားရမ်း၍ စက်ရုံတည် ဆောက်ပြီး တစ်နေ့တန် (၁၀၀) ကျ ရေခဲစက်ရုံလုပ်ငန်း လုပ်ကိုင်လိုခြင်းနှင့်ပတ်သက်၍ ဤဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကိုပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းစာဖြင့် မေတ္တာရပ်ခံခဲ့ပါသည်။

၂။ ရည်ညွှန်းစာပါစိစစ်ပေးစေလိုသောအချက်အလက်များအားစိစစ်မှုများပြုလုပ်ခဲ့ရာ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) Myanmar Millennium Group Production Co., Ltd. မှ တန်(၁၀၀)ကျ ရေခဲစက်အတွက် ဖော်ပြထားသောစက်ပစ္စည်းဈေးနှုန်းများသည် လျော်မှုရှိပါသည်။

(ခ) ဝန်ထမ်း အင်အား စုစုပေါင်း (၅၀) ဦး မှာ စက်စွမ်းအား နှင့် သင့်လျော်မှုရှိပြီး စက်အင်အားနှင့်စက်ရုံအကျယ်အဝန်း ၀၄'x ၅၂' မှာလည်း ညီညွတ်မှုရှိပါသည်။

(ဂ) ကုမ္ပဏီမှတင်ပြထားသောစက်အရေအတွက်နှင့်ကုန်ထုတ်စွမ်းအား အချိုးအစားညီညွတ်မှုရှိပါသည်။

၃။ ရေခဲထုတ်လုပ်မှုနှင့်ပတ်သက်၍စက်ပစ္စည်းများတွင် ရေခဲများဖော်ယူရန်အတွက် Overhead Gantry Crane ( 5 ton to 10 ton ) တစ်ခုဝယ်ယူတပ်ဆင်ရန်လိုအပ်မည်ဖြစ်ပါကြောင်းနှင့်အဆိုပါကူ မြကီအနေဖြင့် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီမှတ်ပုံတင်ဆောင်ရွက်နေခြင်း မရှိသေးပါကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီး (  )
( မြင်းသွေး၊ ဝိုးအတွဲမှူး )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူကို –
ညွှန်ကြားရေးမှူးချုပ်
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့စားသောက်ကုန်လုပ်ငန်း

Myanmar Millennium Group Production Co.,Ltd.

No.4(D),Myaynigone Plaza,Sanchaung Township,Yangon,Myanmar
Phone : (951) 515292, 504566 Fax : (951) 503354

Myanmar Millennium Group Co;Ltd. Yangon
No..........
Date........

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၀၂ ခုနှစ်၊အောက်တိုဘာလ ( ၁၀ ) ရက်၊

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်နှင့်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၁၂နှင့်၁၃တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေနှင့်အညီ တရားဝင်ဖွဲ့စည်းတည်ထောင်ထားသည့် **"မြန်မာထောင်စုပြည့်အဖွဲ့ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်"** (**Myanmar Millennium Group Production Co., Ltd.**) သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ၊ တစ်နေ့တန်(၁၀၀)ကျ ရေခဲစက်ရုံတည်ထောင်ခြင်းလုပ်ငန်းကို၊ အမှတ်(၁) သစ်စက်ဝင်း၊ကြည့်မြင်တိုင်မြို့နယ်၊ရန်ကုန်မြို့ရှိ၊မြေ(၀.၄၅)ဧကကို၊ မြန်မာ့သစ်လုပ်ငန်းမှ ငှားရမ်း၍ ရေခဲစက်ရုံမှ ထွက်ရှိလာသောရေခဲများကို ပြည်တွင်းတွင် ပြန်လည်ရောင်းချမည်ဖြစ်ပါသည်။ ရေခဲစက်ရုံမြေနေရာကို မြန်မာ့သစ်လုပ်ငန်းမှ ကနဦး(၁၅)နှစ်နှင့် (၅)နှစ် တစ်ကြိမ် သက်တမ်းတိုးမြှင့် ငှားရမ်းပြီး စုစုပေါင်း(၂၀)နှစ် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုမည်ဖြစ်ပါသည်။

၂။ **"မြန်မာထောင်စုပြည့်အဖွဲ့ထုတ်လုပ်မှုကုမ္ပဏီလီမိတက်"** သည် ရေခဲစက်ရုံ တည်ဆောက်ခြင်း အတွက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ်သိန်း(၁၂၉၅.၄)သိန်း ကုန်ကျမည်ဖြစ်ပြီး၊ ငွေသားကျပ်သိန်း (၅၀)၊ စက်ပစ္စည်းတန်ဘိုး ကျပ်(၇၇၅.၄)သိန်း၊ စက်ရုံအဆောက်အအုံတန်ဘိုး ကျပ်(၄၅၀)သိန်း၊ ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း ကျပ်သိန်း(၂၀) ထည့်ဝင်ရင်းနှီးမြှုပ်နှံမည် ဖြစ်ပါသည်။ စက်ရုံအတွက် လိုအပ်သော စက်ပစ္စည်းများကို ကိုယ်ပိုင်ငွေဖြင့် ပြည်တွင်းမှဝယ်ယူမည်ဖြစ်ပါသည်။

၃။ **"မြန်မာထောင်စုပြည့်အဖွဲ့ထုတ်လုပ်မှုကုမ္ပဏီလီမိတက်"** သည် ခေတ်မီနည်းပညာများဖြင့် တစ်နေ့တန်(၁၀၀)ကျ ရေခဲစက်တည်ထောင်ခြင်းဖြင့် အလုပ်အကိုင်များ ပိုမိုရရှိပြီး နိုင်ငံတော်အတွက် ရသင့်ရထိုက်သော အခွန်များရရှိစေပြီး မြန်မာနိုင်ငံ၏ စီးပွါးရေးဖွံ့ဖြိုးတိုးတက်စေရန် အထောက်အကူဖြစ်စေနိုင်သဖြင့် ဤလုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

email: mmg@mptmail.net.mm, www.myanmar-business.com

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်


၆၅၃/၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

☎ တယ်လီဖုန်း - ၃၇၂၈၁၂၊ ၃၇၂၁၅၉၊ ၃၇၂၃၉၁


စာအမှတ်၊ ရက-၁/မ-၀၂၅/၂၀၀၂(၄၂၈၂-၈)။
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ ဇန်နဝါရီလ ၂၄ ရက်။

အကြောင်းအရာ။ ။ <u>မြန်မာ ဆောင်းစုပြည်အဖွဲ့ထုတ်လုပ်မှုတူးမှုကီလီမီတာကိုမှတစ်နေ့ တန်(၁၀၀)ကျ ရေခဲစက်ရုံလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြု တင်ပြခြင်း ကိစ္စ</u>။

ရည်ညွှန်းချက်။ ။ (၁) သစ်တောရေးရာဝန်ကြီးဌာန၏ (၉-၁၀-၂၀၀၂) ရက်စွဲပါစာအမှတ်၊ ၂/၂၂၀(ခ)(၄)/(၂၀၂၃/၂၀၀၂)။

(၂) မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏ (၇-၁၁-၂၀၀၂) ရက်စွဲပါစာအမှတ်၊ ၃၀၀/အသဖ(ထ)ရင်းနှီးမြှုပ်နှံမှု/၂၀၀၂။

(၃) အမှတ်(၁) စက်မှုဝန်ကြီးဌာန၏ (၅-၁၂-၂၀၀၂) ရက်စွဲပါစာအမှတ်၊ ၂၉/၁၈(ခ)/၂၀၀၂(၁၀၉၇၁)။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ သစ်တောရေးရာဝန်ကြီးဌာန၏ ရည်ညွှန်း (၁) ပါစာဖြင့်ဆင်ပြခြင်းကိစ္စနှင့်စပ်လျဉ်း၍ ကော်မရှင်မှ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနနှင့်အမှတ်(၁) စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ပါသည်။

၂။ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနမှ ရည်ညွှန်း (၂) ပါစာဖြင့် သဘောထားမှတ်ချက်ပြန်ကြား ရာတွင်အဆိုပါလုပ်ငန်းမှာ လုပ်ငန်းသစ်မဟုတ်ပဲတည် ဆောက်ပြီး လည်ပတ်နေသော စက်ရုံဖြစ်ပြီး ၃၀၀ ကော်ဒီ အထရန်စ ဖော်မာတစ်လုံး တပ်ဆင်သုံးစွဲနေ ကြောင်း ဖော်ပြထားပါသည်။

၃။ အမှတ်(၁) စက်မှုဝန်ကြီးဌာနမှ ရည်ညွှန်း (၃) ပါစာဖြင့်ပြန်ကြားရာ တွင်ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီမှတ်ပုံတင် ဆောင်ရွက်နေခြင်းမရှိသေး ပါ ကြောင်း ပြန်ကြားခဲ့ပါသည်။

၄။ သို့ဖြစ်ပါ၍ ပူဝိစစ်စွမ်းအား ဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့် အမှတ်(၁)စက်မှုဝန်ကြီးဌာန၏သဘောထားမှတ်ချက်တွဲလျက်နေ၍အဆိုပြုလုပ်ငန်းမှာ လက်ရှိလုပ်ငန်းဆောင်ရွက်နေခြင်း ရှိ/မရှိ၊ လုပ်ငန်းအသစ်ဟုတ်/မဟုတ်အတည်ပြုပြန်ကြားပေးပါရန်နှင့် မြေငှားစာချုပ်တွင်ငှားရမ်းကာလကိုကနဦး (၁၅)နှစ်နှင့် (၅)နှစ်တစ်ကြိမ်ဟုသတ်မှတ်ဖော်ပြ၍ ကော်မရှင်သို့ပြင်ဆင်တင်ပြပေးပါရန်အကြောင်းကြားအပ်ပါသည်။

(signature)

ဥက္ကဋ္ဌ(ကိုယ်စား)

( ဗိုလ်မှူးကြီး လင်းသော်၊ အထူးအရာရှိ)

<u>ဝန်ကြီးရုံး၊</u>

<u>သစ်တောရေးရာဝန်ကြီးဌာန။</u>

မိတ္တူ -

- ဦးဆောင်ညွှန်ကြားရေးမှူး
  မြန်မာ့သစ်လုပ်ငန်း ။

မ၁*

Myanmar Millennium Group Production Co.,Ltd.

No.4(D),Myaynigone Plaza,Sanchaung Township,Yangon,Myanmar
Phone : (951) 515292, 504566 Fax : (951) 503354

သို့
အထူးအရာရှိ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၀၃ခုနှစ်၊ ဇန်နဝါရီလ ( ၁ )ရက်၊

**အကြောင်းအရာ ။ ။ မြန်မာထောင်စုပြည့်အဖွဲ့ ထုတ်လုပ်မှုကုမ္ပဏီလီမိတက် ၏ မြေငှားရမ်းခြင်း သက်တမ်းပြင်ဆင်ခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ ။ (၁) မြန်မာထောင်စုပြည့်အဖွဲ့ထုတ်လုပ်မှုကုမ္ပဏီလီမိတက်၏ ၁၀–၁၀–၀၂ ရက်စွဲပါအဆိုပြုချက်။
(၂) မြန်မာ့သစ်လုပ်ငန်း၏ ၉–၁၀–၀၂ ရက်စွဲပါစာအမှတ်၂/၂၂၀(ခ)(၄)/(၂၀၂၃/၂၀၀၂)

မြန်မာထောင်စုပြည့်အဖွဲ့ထုတ်လုပ်မှုကုမ္ပဏီလီမိတက် မှ အထက်ရည်ညွှန်းပါစာအရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြထားသော အဆိုပြုချက်တွင် မြန်မာ့သစ်လုပ်ငန်းနှင့် ချုပ်ဆိုမည့် မြေငှားစာချုပ်တွင် မူလက မြေငှားသက်တမ်းကို ကနဦး(၂၀)နှစ်နှင့် (၅)နှစ် နှစ်ကြိမ် သက်တမ်းတိုးရန်ဖော်ပြခဲ့ပါသည်။ မြန်မာ့သစ်လုပ်ငန်းမှ လမ်းညွှန်ချက်အရ မြေငှားသက်တမ်းကို ယခုအခါ ကနဦး (၁၅)နှစ်နှင့် (၅)နှစ် နှစ်ကြိမ်သက်တမ်းတိုးရန် ပြင်ဆင်ခဲ့ပါသည်။

သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြခဲ့သော မြန်မာထောင်စုပြည့် အဖွဲ့ထုတ်လုပ်မှုကုမ္ပဏီလီမိတက်၏ အဆိုပြုချက်တွင် မြန်မာ့သစ်လုပ်ငန်းမှ မြေငှားသက်တမ်းကို ကနဦး (၁၅)နှစ်နှင့် (၅)နှစ် နှစ်ကြိမ်သက်တမ်းတိုးရန် ပြင်ဆင်တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးမင်းဇေယျာလှိုင်
အုပ်ချုပ်မှုဒါရိုက်တာ
Myanmar Millennium Group
Production Co., Ltd.

email: mmg@mptmail.net.mm, www.myanmar-business.com

Myanmar Millennium Group Production Co.,Ltd.

No.4(D),Myaynigone Plaza,Sanchaung Township,Yangon, Myanmar
Phone : (951) 515292, 504566 Fax : (951) 503354

Millennium Group Co.,Ltd. No. Date Yangon

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၀၂ ခုနှစ်၊အောက်တိုဘာလ ( ၁၀ ) ရက်၊

အကြောင်းအရာ ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်နှင့်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၁၂နှင့်၁၃တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေနှင့်အညီ တရားဝင်ဖွဲ့စည်းတည်ထောင်ထားသည့် **"မြန်မာထောင်စုပြည့်အဖွဲ့ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်"** **(Myanmar Millennium Group Production Co., Ltd.)** သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ၊ တစ်နေ့တန်(၁၀၀)ကျ ရေခဲစက်ရုံတည်ထောင်ခြင်းလုပ်ငန်းကို၊ အမှတ်(၁) သစ်စက်ဝင်း၊ကြည့်မြင်တိုင်မြို့နယ်၊ရန်ကုန်မြို့ရှိ၊မြေ(၀.၄၅)ဧကကို၊ မြန်မာ့သစ်လုပ်ငန်းမှ ငှားရမ်း၍ ရေခဲစက်ရုံမှ ထွက်ရှိလာသောရေခဲများကို ပြည်တွင်းတွင် ပြန်လည်ရောင်းချမည်ဖြစ်ပါသည်။ ရေခဲစက်ရုံမြေနေရာကို မြန်မာ့သစ်လုပ်ငန်းမှ ကနဦး(၁၅)နှစ်နှင့် (၅)နှစ်စီ နှစ်ကြိမ် သက်တမ်းတိုးမြှင့် ငှားရမ်းပြီး စုစုပေါင်း(၂၅)နှစ် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုမည်ဖြစ်ပါသည်။

၂။ **"မြန်မာထောင်စုပြည့်အဖွဲ့ထုတ်လုပ်မှုကုမ္ပဏီလီမိတက်"** သည် ရေခဲစက်ရုံ တည်ဆောက်ခြင်း အတွက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ်သိန်း(၁၂၉၅.၄)သိန်း ကုန်ကျမည်ဖြစ်ပြီး၊ ငွေသားကျပ်သိန်း (၅၀)၊ စက်ပစ္စည်းတန်ဘိုး ကျပ်(၇၇၅.၄)သိန်း၊ စက်ရုံအဆောက်အအုံတန်ဘိုး ကျပ်(၄၅၀)သိန်း၊ ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း ကျပ်သိန်း(၂၀) ထည့်ဝင်ရင်းနှီးမြှုပ်နှံမည် ဖြစ်ပါသည်။ စက်ရုံ အတွက် လိုအပ်သော စက်ပစ္စည်းများကို ကိုယ်ပိုင်ငွေဖြင့် ပြည်တွင်းမှဝယ်ယူမည်ဖြစ်ပါသည်။

၃။ **"မြန်မာထောင်စုပြည့်အဖွဲ့ထုတ်လုပ်မှုကုမ္ပဏီလီမိတက်"** သည် ခေတ်မီနည်းပညာများဖြင့် တစ်နေ့ တန်(၁၀၀)ကျ ရေခဲစက်တည်ထောင်ခြင်းဖြင့် အလုပ်အကိုင်များ ပိုမိုရရှိပြီး နိုင်ငံတော်အတွက် ရသင့်ရထိုက်သော အခွန်များရရှိစေပြီး မြန်မာနိုင်ငံ၏ စီးပွါးရေးဖွံ့ဖြိုးတိုးတက်စေရန် အထောက် အကူဖြစ်စေနိုင်သဖြင့် ဤလုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

email: mmg@mptmail.net.mm, www.myanmar-business.com

(ခ) “အငှားချထားသူ” က ဤစာချုပ်၏ နောက်ဆက်တွဲ(က)အဖြစ် ပူးတွဲထားသော မြေပုံတွင် အနီရောင်အမှတ်အသားဖြင့် ဖော်ပြထားသောမြေကွက်ကို တရားဝင် ပိုင်ဆိုင်ကြောင်း အာမခံပါသည်။

## ၂။ အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း။

“အငှားချထားသူ”နှင့်အငှားချထားခြင်းခံရသူ”တို့သည်သက်ဆိုင်ရာတည်ဆဲဥပဒေများ အရဖွဲ့စည်းထား၍အခွင့်အာဏာအပ်နှင်းခြင်းခံရသောတရားဝင်ရပ်တည်ခွင့်ရှိသူများ ဖြစ်ပြီး၊ဤမြေငှားစာချုပ်ပါလုပ်ငန်းကိုလုပ်ကိုင်ခွင့်ရှိသောပုဂ္ဂိုလ်များဖြစ်ကြောင်းနှင့် ဤစာချုပ်ကိုအခွင့်အာဏာရှိသူများ၊ငွေကြေးအင်အား တောင့်တင်း သူများဖြစ်ကြောင်း အသီးသီး တာဝန်ယူကြပါသည်။

## ၃။ လုပ်ငန်းဘောင်နှင့်လုပ်ဆောင်မှုဖြစ်စဉ်

စီမံကိန်းနှင့်လုပ်ငန်းစဉ်အကျဉ်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်–

(က) “အငှားချထားခြင်းခံရသူ” သည် ကြည့်မြင်တိုင်မြို့နယ်၊ အမှတ်(၁)သစ်စက်ဝင်း အတွင်းတွင် ၁၀၀% ရင်းနှီးမြှုပ်နှံ၍ တနေ့တန်(၁၀၀)ကျ ရေခဲစက်ရုံကို တည်ဆောက်ပြီး၊ ရေခဲများထုတ်လုပ်ဖြန့်ဖြူးရောင်းချမည်ဖြစ်ပါသည်။

(ခ) ထုတ်လုပ်မည့်ပစ္စည်းများမှာ–
ရေခဲတုံးများ

(ဂ) “အငှားချထားခြင်းခံရသူ” မှ အဆိုပါမြေကေပေါ်တွင် စီမံကိန်းမ,တည်ငွေရင်း ကျပ်သန်း(၁၃၀)ကို ရင်းနှီးမြှုပ်နှံ၍ တည်ဆောက်လုပ်ကိုင်သွားမည် ဖြစ်ပါသည်။

(ဃ) ကနဦးစီမံကိန်းကာလအဖြစ် (၁၅)နှစ်သတ်မှတ်၍ နောက်ထပ်(၅)နှစ်စီ (၂)ကြိမ် သက်တမ်းတိုးမြှင့်ပြီး၊ စုစုပေါင်းစီမံကိန်းကာလကို (၂၅)နှစ်သတ်မှတ်ပါသည်။

## ၄။ မြေငှားရမ်းခြင်းအတွက် ငွေပေးသွင်းမှုနှင့် ယင်း၏စည်းကမ်းသတ်မှတ်ချက်များ

(က) “အငှားချထားခြင်းခံရသူ” သည် မြန်မာနိုင်ငံသားပိုင် ရင်းနှီးမြှုပ်နှံမှု ကုမ္ပဏီဖြစ်၍ မြေငှားရမ်းခ(Land Rental Fees)အဖြစ် ရေခဲစက်ရုံအတွက် မြေနေရာ(၀.၄၅) ဧကကို တစ်နှစ်အတွက် တစ်စတုရန်းမီတာလျှင် ၃၀၀ ကျပ်နှုန်းဖြင့် (၀.၄၅)ဧက အတွက် ကျပ်၅၄၆,၀၀၀/– (ကျပ်ငါးသိန်းလေးသောင်းခြောက်ထောင်တိတိ) ကို မြေငှားစါချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစတင်၍အငှားချထားသူသို့နှစ်စဉ်ပေး သွင်းရမည်။

(ခ) အထက်အပိုဒ်ခွဲ(က)ပါ မြေငှားရမ်းခများကို အငှားချထားခြင်းခံရသူသည် အငှားချ ထားသူထံသို့ သက်ဆိုင်ရာဘဏ္ဍာနှစ်မစတင်မီ ရှေ့သုံးလဖြစ်သည့် ဇန်နဝါရီလမှ မတ်လအတွင်း သင့်လျော်ရာအချိန်၌ နှစ်စဉ်ကြိုတင်ပေးသွင်းရမည်။

(င) မြေငှားရမ်းခများကို သတ်မှတ်နှုန်းထားနှင့် သတ်မှတ်သောနည်းလမ်းများအတိုင်း သတ်မှတ်ထားသည့်အချိန်အတိအကျပေးချေရမည်။

(စ) မြန်မာ့အာမခံဥပဒေနှင့်အညီလိုအပ်သောအာမခံများထားရှိရမည်။

## ၇။ စာချုပ်စတင်အကျိုးသက်ရောက်သောနေ့

ဤစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိပြီးနောက် အသိသက်သေများရှေ့တွင် နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးသောနေ့မှ စတင်အကျိုးသက်ရောက်မှုရှိစေရမည်။

## ၈။ စာချုပ်သက်တမ်း

စီမံကိန်းသက်တမ်းကာလ ကနဦး(၁၅)နှစ်ကို တည်ဆောက်ရေးကာလ တစ်နှစ်ပြည့်သည့်နေ့မှ စတင်ရေတွက်သွားမည်ဖြစ်သည်။ အဆိုပါသက်တမ်းပြည့်သည့်အခါတွင် နှစ်ဦးနှစ်ဖက်ညှိနှိုင်းမှုများပြုလုပ်၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အတည်ပြုချက်ဖြင့် နောက်ထပ်(၅)နှစ်စီ (၂)ကြိမ် သက်တမ်းတိုးမြှင့်ခွင့်ရှိသည်။

## ၉။ စာချုပ်ပြီးဆုံးခြင်း

ဤစာချုပ်ပါစည်းကမ်းချက်များနှင့်အညီ စာချုပ်ပါလုပ်ငန်းများကို အငှားချထားခြင်းခံရသူက အပြည့်အဝပြီးဆုံးအောင် ဆောင်ရွက်ပြီး၍ အငှားချထားသူ၏ အတည်ပြုချက်ရရှိပြီးသည့်အခါ စာချုပ်ပြီးဆုံးသည်ဟုမှတ်ယူရမည်။

## ၁၀။ ကြိုတင်စည်းကမ်းသတ်မှတ်ချက်

ဤစာချုပ်၏ အကျိုးသက်ရောက်မှုသည် ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း သက်ဆိုင်ရာအစိုးရအာဏာပိုင်များထံမှ လိုအပ်သည့်သဘောတူညီချက်၊ ခွင့်ပြုချက်များရရှိပြီးမှုပေါ်တွင်တည်ရှိပါသည်။

## ၁၁။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

အငှားချထားခြင်းခံရသူသည်ရေဆိုးများသန့်စင်စေရန်စီမံခြင်း၊ ရေလွှတ်စနစ်များထားရှိခြင်းတို့ကို ပြည်ထောင်စုမြန်မာနိုင်ငံတော်ဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

## ၁၇။ မြေသို့ပြန်လည်ဝင်ရောက်ခွင့်

အငှားချထားခြင်းခံရသူသည် စာချုပ်ပါစည်းကမ်းချက်များအတိုင်း ဆောင်ရွက်ရန် သို့မဟုတ် လိုက်နာရန်ပျက်ကွက်၍ အငှားချထားသူက စည်းကမ်းချက်များကို လိုက်နာရန် အကြောင်းကြားစာ ပေးပို့ပြီးနောက် ရက်ပေါင်း(၃၀)အတွင်း အငှားချထားခြင်းခံရသူမှ လိုက်နာဆောင်ရွက်ခြင်းမရှိပါက ငှားရမ်းထားသည့်မြေပေါ်သို့ အငှါးချထားသူက ပြန်လည်ဝင်ရောက်၍ လက်ရောက်ပြန်လည်ရယူခွင့်ရှိသည်။ ယင်းသို့ ပြန်လည်ရယူခြင်းအတွက် အငှါးချထားသူ၏ ရပိုင်ခွင့်နှင့်ပတ်သက်၍ ဥပဒေနှင့်အညီ တောင်းဆိုပိုင်ခွင့်ကို ထိရောက်ခြင်း မရှိစေရ။

## ၁၈။ ပစ္စည်းများပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

ရေခဲစက်ရုံကို ကနဦးစီမံကိန်းကာလ (၁၅)နှစ် ပြီးဆုံးပြီးနောက်၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် နောက်ထပ်(၅)နှစ် (၂)ကြိမ်ကာလ အပါအဝင် သက်တမ်းစုစုပေါင်း (၂၅)နှစ် ကာလပြီးဆုံးပါက အောက်ပါအတိုင်း ဆောင်ရွက်ရမည်။

(က) ရွှေ့ပြောင်းနိုင်သော ပစ္စည်းများအားလုံး (စက်ပစ္စည်းများနှင့်တကွ အခြားပစ္စည်းများ) ကို လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိသူကရွှေ့ပြောင်းယူဆောင်သွားခွင့်ရှိသည်။

(ခ) မရွှေ့ပြောင်းနိုင်သော အဆောက်အအုံပစ္စည်းများအား လုပ်ငန်းလုပ်ကိုင်ခွင့် ရသူက မြန်မာ့သစ်လုပ်ငန်းသို့ အဖိုးစားနားမဲ့အပြီးအပိုင် လွှဲပြောင်းပေးရမည်။

## ၁၉။ စာပေးစာယူပြုလုပ်ရန်လိပ်စာများ

အငှားချထားသူနှင့် အငှားချထားခြင်းခံရသူအကြား ဆက်သွယ်ခြင်း၊ အကြောင်းကြားစာပေးပို့ခြင်းကို အောက်ပါလိပ်စာအတိုင်း လိပ်မူရမည်။

| <u>အငှားချထားသူအတွက်</u> | <u>အငှားချထားခြင်းခံရသူအတွက်</u> |
|---|---|
| ဦးဆောင်ညွှန်ကြားရေးမှူး | အုပ်ချုပ်မှုဒါရိုက်တာ |
| မြန်မာ့သစ်လုပ်ငန်း | Myanmar Millennium Group |
| အလုံမြို့နယ်၊ ရန်ကုန်မြို့။ | Production Co., Ltd. |
| | အမှတ်-၄(D)၊ မြေနီကုန်းပလာဇာ၊ |
| | စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။ |

Myanmar Millennium Group Production Co.,Ltd.

No.4(D),Myaynigone Plaza,Sanchaung Township,Yangon, Myanmar
Phone : (951) 515292, 504566 Fax : (951) 503354

သို့
မှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး၊
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊
ရန်ကုန်မြို့။

နေ့စွဲ ။ ။ ၂၀၀၂ ခုနှစ်၊ နိုဝင်ဘာလ ( ၅ ) ရက်။

**အကြောင်းအရာ။ ။ မ,တည်ရင်းနှီးငွေတိုးမြှင့်ခွင့်တောင်းခံခြင်း ။**

၁။ ကျွန်တော်တို့ ကုမ္ပဏီသည် ကုမ္ပဏီများမှတ်ပုံတင်ရုံးတွင် မှတ်ပုံတင်ခဲ့စဉ်က မ,တည်ရင်းနှီးငွေအား တစ်စုလျှင် ကျပ်(၁၀၀,၀၀၀/-)ဖြင့် အစုရှယ်ယာပေါင်း (၃၀၀)စုအဖြစ် စုစုပေါင်း ကျပ်၃၀,၀၀၀,၀၀၀/-(ကျပ်သန်းသုံးဆယ်တိတိ)သတ်မှတ်ခဲ့ပါသည်။

၂။ ယခုအခါ စီးပွါးရေးလုပ်ငန်းများ ဆောင်ရွက်လုပ်ကိုင်ရာတွင် မူလ မ,တည်ရင်းနှီးငွေဖြင့် လုံလောက်မှုမရှိသည့်အတွက်၊ မူလအစုရှယ်ယာတန်ဖိုးပြောင်းလဲမှုမရှိဘဲ၊ တစ်စုလျှင် ကျပ်(၁၀၀,၀၀၀/-)ဖြင့် အစုရှယ်ယာပေါင်း (၂,၀၀၀)သို့ တိုးမြှင့်ခွင့်ပြုပါရန် တင်ပြအပ်ပါသည်။

၃။ မ,တည်ရင်းနှီးငွေတိုးမြှင့်ခြင်းအတွက် ထပ်မံပေးသွင်းရမည့် မှတ်ပုံတင်ကြေးနှင့် အခြားသော မှတ်ပုံတင်ကြေးများကိုလည်းပေးသွင်းမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

(MIN ZEYAR HLAING)
MANAGING DIRECTOR
MYANMAR MILLENNIUM GROUP CO.,LTD.

email: mmg@mptmail.net.mm, www.myanmar-business.com

Myanmar Millennium Group Production Co.,Ltd.

No.4(D),Myaynigone Plaza,Sanchaung Township,Yangon, Myanmar
Phone : (951) 515292, 504566 Fax : (951) 503354

Millennium Group Co.,Ltd. No.......... Date......... Yangon

To
Registrar of Joint Stock Companies,
Companies Registration Office,
Ministry of National Planning and Economic Development
Yangon.

**Registration of Special Resolution**
**(Pursuant to Section 82)**

| | | |
|---|---|---|
| 1. | Date of despatch of notice specifying the intention to propose the resolution as Special Resolution | : 15.10.2002 |
| 2. | Passed on | : 30.10.2002 |
| 3. | Name of Company | : Myanmar Millennium Group Production Co., Ltd. |
| 4. | Presented for filing by | : U Min Zeyar Hlaing |

At an Extra-Ordinary General Meeting of the members of the above mentioned company, conveyed and held at No.4(D) Myaynigone Plaza, Sanchaung Township, Yangon on 30.10.2002 the following Special Resolution were duly passed unanimously as Special Resolution.

(1) Resolved that the Authorized Capital be and is hereby increased to K.200,000,000/- (Kyat Two Hundred Million Only) divided into 2,000 (Two Thousand) Shares of K.100,000/-(Kyat Hundred Thousand Only) each with the power, terms and conditions as originally registered.

(2) Resolved that the provisions in the Memorandum and Articles of Association be changed accordingly.

Certified true copy of
Special Resolution

(MIN ZEYAR HLAING)
MANAGING DIRECTOR
MYANMAR MILLENNIUM GROUP CO.,LTD.

email: mmg@mptmail.net.mm, www.myanmar-business.com

Myanmar Millennium Group Production Co.,Ltd.

No.4(D),Myaynigone Plaza,Sanchaung Township,Yangon, Myanmar
Phone : (951) 515292, 504566 Fax : (951) 503354


သို့
မှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး၊
ရန်ကုန်မြို့။

နေ့စွဲ ။ ။ ၂၀၀၂ ခုနှစ်၊ အောက်တိုဘာလ ( ၃၀ ) ရက်။

**အကြောင်းအရာ။** ။ **<u>ပုံစံ( ၆ )တင်ပြခြင်း</u>** ။

ကျွန်တော်တို့ **Myanmar Millennium Group Production Co.,Ltd.** မှ ဒါရိုက်တာအဖွဲ့၏ အစည်းအဝေးဆုံးဖြတ်ချက်များအရပုံစံ(၆)ကိုကုမ္ပဏီများမှတ်ပုံတင်ရုံးသို့ တင်ပြအစီရင်ခံအပ်ပါသည်။

ကျသင့်သည့် မှတ်ပုံတင်ကြေးကိုလည်း ပေးသွင်းပြီးဖြစ်ပါသည်။

လေးစားစွာဖြင့်

ဦးမင်းဇေယျာလှိုင်
Managing Director
Myanmar Millennium
Group Production Co., Ltd.
(MIN ZEYAR HLAING)
MANAGING DIRECTOR


email: mmg@mptmail.net.mm, www.myanmar-business.com

Myanmar Millennium Group Production Co.,Ltd.

No.4(D),Myaynigone Plaza,Sanchaung Township,Yangon, Myanmar
Phone : (951) 515292, 504566 Fax : (951) 503354



## ဒါရိုက်တာအဖွဲ့အစည်းအဝေးမှတ်တမ်း

ကျင်းပသည့်နေ့ ။ ။ ၂၅-၁၀-၂၀၀၂

ကျင်းပသည့်အချိန် ။ ။ နံနက်(၁၀:၀၀)နာရီ

ကျင်းပသည့်နေရာ ။ ။ ကုမ္ပဏီရုံးအစည်းအဝေးခန်းမ

**အစည်းအဝေးတက်ရောက်သူများ**

(၁) ဦး မင်းဇေယျာလှိုင် - အုပ်ချုပ်မှုဒါရိုက်တာ

(၂) ဒေါ်နွေနှောင်းခင်မောင်သန်း - ဒါရိုက်တာ

အစည်းအဝေးတွင်သဘာပတိအဖြစ်အုပ်ချုပ်မှုဒါရိုက်တာဖြစ်သူ ဦးမင်းဇေယျာလှိုင်မှဆောင်ရွက်၍ အောက်ပါတို့ကို ဆုံးဖြတ်ကြပါသည်။

**အစည်းအဝေးဆုံးဖြတ်ချက်များ**

၁) ကုမ္ပဏီ၏ လုပ်ငန်းလိုအပ်ချက်အရ အစုရှယ်ယာများကို ထပ်မံခွဲဝေထည့်ဝင်ကြရာတွင် အောက်ပါအတိုင်း တန်ဖိုးပြည့်ထပ်မံထည့်ဝင်ကြရန် အများသဘောတူဆုံးဖြတ်ကြပါသည်။

(က) ဦးမင်းဇေယျာလှိုင် - (၁၂၀)စု

(ခ) ဒေါ်နွေနှောင်းခင်မောင်သန်း - (၁၂၀)စု

၂) ကုမ္ပဏီ၏ ဒါရိုက်တာအဖွဲ့ဝင်များကို ပြောင်းလဲမှုမရှိဘဲ ယခင်အတိုင်းဆက်လက်ခန့်ထားရန် အများသဘောတူဆုံးဖြတ် ကြသည်။

၃) အစည်းအဝေးမှ ဆုံးဖြတ်ချက်များကို ကုမ္ပဏီများမှတ်ပုံတင်ရုံးသို့ တင်ပြရန်ဆုံးဖြတ်ကြပြီး အစည်းအဝေးကို မွန်းလွဲပိုင်းတွင် အောင်မြင်စွာ ရုပ်သိမ်းလိုက်ကြပါသည်။

မှတ်တမ်းတင်သူ

(MIN ZEYAR HLAING)

MANAGING DIRECTOR

email: mmg@mptmail.net.mm, www.myanmar-business.com

# FORM VI

## RETURN OF ALLOTMENTS
## THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)

Return of allotment from the 25th of October 2002

on the of 200 of the * MYANMAR MILLENNIUM GROUP PRODUCTION CO.,LTD.

Made pursuant to Section 104(1)

Number of the shares allotted payable in cash ..... 240 Shares

" " " " .....

Nominal amount of the shares so allotted ..... Ks.24,000,000/-

" " " " .....

Amount paid or due and payable on each such share ..... Ks.100,000/-

" " " " ..... (Fully paid up)

Number of ordinary shares allotted for a consideration other than cash

Nominal amount of the ordinary shares so allotted .....

Amount to be treated as paid on each such share .....

The consideration for which such share have been allotted is as follows:-

---

**NOTE:** In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.
Distinguish between preference, ordinary, or other description of shares.

(MIN ZEYAR HLAING)
MANAGING DIRECTOR

Myanmar Millennium Group Production Co.,Ltd.

No.4(D),Myaynigone Plaza,Sanchaung Township,Yangon, Myanmar
Phone : (951) 515292, 504566 Fax : (951) 503354

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၀၂ ခုနှစ်၊အောက်တိုဘာလ (၁၀ ) ရက်၊

**အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်နှင့်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့်၁၃ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေနှင့်အညီ တရားဝင်ဖွဲ့စည်းတည်ထောင်ထားသည့် **"မြန်မာထောင်စုပြည့်အဖွဲ့ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်"** **(Myanmar Millennium Group Production Co., Ltd.)** သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ၊ တစ်နေ့တန်(၁၀၀)ကျ ရေခဲစက်ရုံတည်ထောင်ခြင်းလုပ်ငန်းကို၊ အမှတ်(၁) သစ်စက်ဝင်း၊ကြည့်မြင်တိုင်မြို့နယ်၊ရန်ကုန်မြို့ရှိ၊မြေ(၀.၄၅)ဧကကို၊ မြန်မာ့သစ်လုပ်ငန်းမှ ငှားရမ်း၍ ရေခဲစက်ရုံမှ ထွက်ရှိလာသောရေခဲများကို ပြည်တွင်းတွင် ပြန်လည်ရောင်းချမည်ဖြစ်ပါသည်။ ရေခဲစက်ရုံမြေနေရာကို မြန်မာ့သစ်လုပ်ငန်းမှ ကနဦး(၂၀)နှစ်နှင့် (၅)နှစ်စီ နှစ်ကြိမ် သက်တမ်းတိုးမြှင့် ငှားရမ်းပြီး စုစုပေါင်း(၃၀)နှစ် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုမည်ဖြစ်ပါသည်။

၂။ **"မြန်မာထောင်စုပြည့်အဖွဲ့ထုတ်လုပ်မှုကုမ္ပဏီလီမိတက်"** သည် ရေခဲစက်ရုံ တည်ဆောက်ခြင်း အတွက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ်သိန်း(၁၂၈၅.၄)သိန်း ကုန်ကျမည်ဖြစ်ပြီး၊ ငွေသားကျပ်သိန်း (၅၀)၊ စက်ပစ္စည်းတန်ဘိုး ကျပ်(၇၇၅.၄)သိန်း၊ စက်ရုံအဆောက်အအုံတန်ဘိုး ကျပ်(၄၅၀)သိန်း၊ ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း ကျပ်သိန်း(၂၀) ထည့်ဝင်ရင်းနှီးမြှုပ်နှံမည် ဖြစ်ပါသည်။ စက်ရုံအတွက် လိုအပ်သော စက်ပစ္စည်းများကို ကိုယ်ပိုင်ငွေဖြင့် ပြည်တွင်းမှဝယ်ယူမည်ဖြစ်ပါသည်။

၃။ **"မြန်မာထောင်စုပြည့်အဖွဲ့ထုတ်လုပ်မှုကုမ္ပဏီလီမိတက်"** သည် ခေတ်မီနည်းပညာများဖြင့် တစ်နေ့တန်(၁၀၀)ကျ ရေခဲစက်တည်ထောင်ခြင်းဖြင့် အလုပ်အကိုင်များ ပိုမိုရရှိပြီး နိုင်ငံတော်အတွက် ရသင့်ရထိုက်သော အခွန်များရရှိစေပြီး မြန်မာနိုင်ငံ၏ စီးပွါးရေးဖွံ့ဖြိုးတိုးတက်စေရန် အထောက်အကူဖြစ်စေနိုင်သဖြင့် ဤလုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

email: mmg@mptmail.net.mm, www.myanmar-business.com

